




# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-......၆၅၁......./ ၂၀၀၄ ။ ၂၀၀၄ ခုနှစ်၊ ဒီဇင်ဘာ လ ၈ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ........ ဦးသန်းဝင်း

(ခ) အဘအမည် ........ ဦးစောင်ညွန့်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ........ ၉/မနမ(နိုင်)၀၄၅၁၁၆

(ဃ) နေရပ်လိပ်စာ ........ အမှတ်(၂၂၂)၊ (၁၃)လမ်း၊ (၂၇×၂၈)လမ်းကြား၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးမြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ........ မြန်မာမန္တလေးကုမ္ပဏီလီမိတက် ( Myanmar Mandalay Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ........ (B.O.T)စနစ်ဖြင့် ရုံးခန်းများ၊ ဈေးဆိုင်ခန်းများပါဝင်သောအဆောက်အအုံ ဆောက်လုပ်ခြင်း လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ........ မန္တလေးမြို့၊ ချမ်းအေးသာဇံမြို့နယ်၊ ဟေမာဇလရပ်ကွက်၊ မြေကွက်အမှတ်(၆၁၂) [မြန်မာ့မီးရထားပိုင်မြေ]

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ........ (၁၂၀.၀၀)သန်း(ကျပ်သန်းတစ်ရာ့နှစ်ဆယ်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၁၅ /၂၀၀၄ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၆ ခုနှစ်၊ ဝါခေါင်လပြည့်ကျော် ၉ ရက်။
(၂၀၀၄ ခုနှစ်၊ စက်တင်ဘာလ ၇ ရက်)

၆၅၁/၂၀၀၄

၁။ မြန်မာ ကုမ္ပဏီဖြစ်သော မြန်မာ မန္တလေး ကုမ္ပဏီ လီမိတက် (Myanmar Mandalay Co., Ltd.) သည် မန္တလေးမြို့၊ ချမ်းအေးသာဇံမြို့နယ်၊ ဟေမာဇလ ရပ်ကွက်၊ မြေကွက်အမှတ် (၆၁၂)ရှိ မြန်မာ့ မီးရထားမှ ပိုင်ဆိုင်သောမြေဧရိယာ (၀.၈၅၂)ဧက (၃၄၅၀.၂၈ စတုရန်းမီတာ) ကို ငှါးရမ်း၍ (B.O.T) စနစ်ဖြင့်ရုံးခန်းများ၊ ဈေးဆိုင်ခန်းများတည်ဆောက်ဖွင့်လှစ် လုပ်ကိုင်ဆောင်ရွက်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၆-၇-၂၀၀၄)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၄/၂၀၀၄) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ ပါသည်။ ကော်မရှင် အစည်းအဝေးမှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၂၁-၇-၂၀၀၄) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၂၁/၂၀၀၄) ကြိမ်မြောက် အစည်းအဝေးသို့ ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက်အရ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ (၁၉-၈-၂၀၀၄)နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၃၂/၂၀၀၄)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် မြန်မာ မန္တလေး ကုမ္ပဏီ လီမိတက် (Myanmar Mandalay Co., Ltd.)အား မြန်မာ့ မီးရထားပိုင်မြေကို ငှါးရမ်း၍ (B.O.T) စနစ်ဖြင့် ရုံးခန်းများ၊ ဈေးဆိုင်ခန်းများ တည်ဆောက်ဖွင့်လှစ် လုပ်ကိုင်ဆောင်ရွက်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၆၅၁/၂၀၀၄ ကို ထုတ်ပေးလိုက်သည်။

၂။ မြန်မာ မန္တလေး ကုမ္ပဏီ လီမိတက် (Myanmar Mandalay Co., Ltd.)အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ဝန်ဆောင်မှု လုပ်ငန်း စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ် ခွင့်ပြုသည်။ ဥပဒေ ပုဒ်မ ၁၃မှ အောက်ဖော်ပြပါလုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့် များကို ခံစားလိုပါက ကော်မရှင် သို့ လျှောက်ထားရမည်။

(က) ဥပဒေပုဒ်မ ၁၃(ဂ)အရ နိုင်ငံတော်အတွက် အကျိုးဖြစ်ထွန်းသော စီးပွားရေးလုပ်ငန်းဖြစ်ပြီး ကုန်ထုတ်လုပ်မှုကြောင့်ဖြစ်စေ၊ ဝန်ဆောင်မှုလုပ်ငန်းကြောင့်ဖြစ်စေ သတ်မှတ်သည့်နှုန်းအထိ ပြည်တွင်းပြည်ပ ဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့်၊

(ခ) ဥပဒေပုဒ်မ ၁၃(စ)အရ စီးပွားရေးလုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို ပြန်လည် ရင်းနှီးမြှုပ်နှံရန် သီးသန့် ရန်ပုံငွေထား၍ (၁)နှစ်အတွင်း ယင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေ အပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်၊

(ဂ) ဥပဒေပုဒ်မ၁၃(ဆ)အရဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ စက်ပစ္စည်း၊ စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများ၏ ပစ္စည်းတန်ဖိုးလျော့ငွေကို သတ်မှတ်ထားသည့် နှုန်းထားများအတိုင်း နှစ်တိုတိုနှင့် မူလတန်ဖိုးပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်၊

၃။ မြန်မာ မန္တလေး ကုမ္ပဏီ လီမိတက် (Myanmar Mandalay Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များအဖြစ် ထားရှိပြီး အကောင်အထည် ဖော်ရမည်။

၄။ မြန်မာ မန္တလေး ကုမ္ပဏီ လီမိတက် (Myanmar Mandalay Co., Ltd.)သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၅။ ရထားပို့ဆောင်ရေး ဝန်ကြီးဌာန၊ မြန်မာ့မီးရထားနှင့် မြန်မာ မန္တလေး ကုမ္ပဏီ လီမိတက် (Myanmar Mandalay Co., Ltd.) တို့သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုပြီးဖြစ်သော (B.O.T) စနစ်ဖြင့်မြေ ငှါးရမ်းခြင်း သဘောတူစာချုပ်ပါ စည်းမျဉ်းစည်းကမ်းများအတိုင်း ဒိုက်နာ ဆောင်ရွက်ကြရမည်။

၆။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် မြေအငှါးချထားသူ ရထားပို့ဆောင်ရေး ဝန်ကြီးဌာန၊ မြန်မာ့မီးရထားနှင့် အငှါးချထားခြင်းခံရသူ မြန်မာ မန္တလေး ကုမ္ပဏီ လီမိတက် (Myanmar Mandalay Co., Ltd.) တို့အကြား ချုပ်ဆိုမည့် (B.O.T) စနစ်ဖြင့်မြေ ငှါးရမ်းခြင်း သဘောတူစာချုပ် လက်မှတ်ရေးထိုးပြီးသည့်အခါ ယင်းသဘောတူ စာချုပ် မိတ္တူ(၅)စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

၇။ မြေငှါးရမ်းကာလမှာ တည်ဆောက်ရေးကာလ (၁၈)လ ပြည့်မြောက်သည့် နေ့မှစ၍ ကနဦး (၁၅)နှစ် (တစ်ဆယ့်ငါးနှစ်) ဖြစ်ပါသည်။ နောက်ထပ် (၅)နှစ် (၁)ကြိမ် ဆက်လက် ငှါးရမ်းခွင့် ရရှိရေးအတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရမည်။

၈။ မြေငှါးရမ်းခနှုန်းကို (၅)နှစ်လျှင်တကြိမ် ပြန်လည်စိစစ်ရာ၌ ပြီးခဲ့သော (၅)နှစ်ကာလအတွက် သတ်မှတ်ငှါးရမ်းခနှုန်း၏ (၁၅)ရာခိုင်နှုန်းထက် မပိုစေဘဲ တိုးမြှင့်ခွင့်ရှိသည်။

၉။ မြေငှါးရမ်းခအဖြစ် ကုမ္ပဏီမှ ဆောက်လုပ်သည့် အဆောက်အဦ(၅)လုံး၏ အငှါးချထားနိုင်သည့် ကြမ်းပြင်ဧရိယာ (၆၄၄၀.၅၃) စတုရန်းမီတာအတွက် (တစ်)နှစ်လျှင် တစ် စတုရန်းမီတာကို ကျပ် (၇၀၀)နှုန်းဖြင့် ကျပ် (၄.၅၁)သန်းနှင့် ယာဉ်ရပ်နားရန် မြေလွတ်ဧရိယာ (၁၁၅၀.၀၉) စတုရန်းမီတာအတွက် တစ်နှစ်လျှင် တစ်စတုရန်းမီတာကို ကျပ်(၅၀၀)နှုန်းဖြင့် နှစ်စဉ်ကျပ် (၀.၅၇)သန်း တို့ကို ပေးသွင်းရမည်ဖြစ်၍ စုစုပေါင်း ငှါးရမ်းခ တစ်နှစ်အတွက် ကျပ် (၅.၀၈)သန်းကို (၃)လ (တစ်)ကြိမ် ပထမလ၏ လဆန်း (၁၀)ရက်အတွင်း ကြိုတင်ပေးသွင်းရမည်။

၁၀။ မြေအသုံးချမှု ပရီမီယံကြေးအဖြစ် ကျပ်(၂၉.၈၂) သန်းကို (၃)ရစ်ခွဲ၍ မြန်မာ့မီးရထားသို့ အောက်ပါအတိုင်း ပေးသွင်းရမည်။

ပထမအရစ် - ကျပ် (၁၁.၉၂၈)သန်း (စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ ရက်ပေါင်း(၃၀)အတွင်း)

ဒုတိယအရစ် - ကျပ် (၈.၉၄၆)သန်း (ပထမအရစ် ပေးသွင်းပြီးသည့်နေ့မှ (၆) လအတွင်း)

တတိယအရစ် - ကျပ် (၈.၉၄၆)သန်း (ဒုတိယအရစ် ပေးသွင်းပြီးသည့်နေ့မှ (၆) လအတွင်း)

၁၁။ မြန်မာ မန္တလေး ကုမ္ပဏီ လီမိတက် (Myanmar Mandalay Co., Ltd.) သည် ဆောက်လုပ်သည့် အဆောက်အဦရှိ အခန်းများကို နိုင်ငံခြားသား(သို့မဟုတ်) နိုင်ငံခြားသားပိုင် ကုမ္ပဏီသို့ (တစ်)နှစ် ထက် ကျော်လွန်၍ ထပ်ဆင့် ငှါးရမ်းမည်ဆိုပါက ၁၉၈၇ ခုနှစ်၊ မရွှေ့မပြောင်းနိုင်သော ပစ္စည်းများ လွှဲပြောင်းခြင်းကို ကန့်သတ်သည့် ဥပဒေပုဒ်မ(၁၄)အရ သက်ဆိုင်ရာ ဝန်ကြီးဌာနက ထုတ်ပေးသော "ကင်းလွတ်ခွင့်ပြုသည့်အမိန့်" ရရှိပြီး ဖြစ်ရမည်။

၁၂။ ငှါးရမ်းကာလ ကုန်ဆုံးသည့်အခါ မြေနှင့်တကွ အဆောက်အဦ အပါအဝင် အဆောက်အဦနှင့် ဆက်စပ် ပတ်သက်နေသော ပစ္စည်းများကို မွမ်းမံထားရှိပြီး ကောင်းမွန်စွာ အသုံးပြုနိုင်သည့် အခြေအနေအတိုင်း မြန်မာ့ မီးရထားသို့ အဖိုးစားနား တစ်စုံတစ်ရာ တောင်းခံမှု မရှိဘဲ (၃)လ အတွင်း ပြန်လည်လွှဲပြောင်းပေးရမည်။ ယင်းသို့ လွှဲပြောင်းပေးရာတွင် အဆောက်အဦမှာ အလွတ်သက်သက်ဖြစ်ရမည်။

၁၃။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၄။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီး ဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၅။ မြန်မာ မန္တလေး ကုမ္ပဏီ လီမိတက် (Myanmar Mandalay Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံ များကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ဆောင်ရွက်ထားရှိမှု အခြေအနေ ကို ဤကော်မရှင် သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၆။ အဆိုပြုလုပ်ငန်းနှင့် ဆက်စပ်နေသော မော်တော်ယာဉ်ရပ်နားရန် (Car Parking) ကိစ္စကို အဆိုပြုလွှာတွင် တင်ပြထားသည့်အတိုင်း စနစ်တကျ ဆောင်ရွက်ထားရှိရမည်။

၁၇။ မြန်မာ မန္တလေး ကုမ္ပဏီ လီမိတက် (Myanmar Mandalay Co., Ltd.) သည် အဆိုပြုလုပ်ငန်း စီးပွားဖြစ် စတင်ဆောင်ရွက်သည့်နေ့ကို ဤ ကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၈။ မြန်မာ မန္တလေး ကုမ္ပဏီ လီမိတက် (Myanmar Mandalay Co., Ltd.) သည် ပူးတွဲပါကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

ထိုအပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ/ အောက်တိုဘာလများ) မပျက်မကွက် ပုံမှန် ပေးပို့အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း စတင်ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၉။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (၁)နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

၂၀။ မြန်မာ မန္တလေး ကုမ္ပဏီ လီမိတက် (Myanmar Mandalay Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ခြင်းမရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည်ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၂၁။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လုပ်ငန်းရပ်စဲရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်ရမည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၅(င)အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

( ဦးသောင်း )
ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၆(က)/မ-၉၃၈/၂၀၀၄ (၄ ၀ ၂ ၃ )
ရက်စွဲ၊ ၂၀၀၄ ခုနှစ်၊ စက်တင်ဘာလ ၈ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ မန္တလေး တိုင်းအေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီရုံး၊ မန္တလေးမြို့။
၅။ ကာကွယ်ရေးဝန်ကြီးဌာန၊ တပ်မတော်ထောက်လှမ်းရေးဌာနချုပ်ရုံး(ပြည်တွင်းထောက်လှမ်းရေးဌာန)။
၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ ရထားပို့ဆောင်ရေး ဝန်ကြီးဌာန။

၉။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၁၀။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၁။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၂။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၃။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၄။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၅။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၁၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့မီးရထား။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၃။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။
၂၄။ အုပ်ချုပ်မှု ဒါရိုက်တာ၊ မြန်မာ မန္တလေး ကုမ္ပဏီ လီမိတက် (Myanmar Mandalay Co., Ltd.)။